ကုမ္ပဏီအမည် - Paradiso Cimemas Co., Ltd.

လုပ်ငန်း - **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည့်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၂-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး၄၆/၂၀၁၆ သို့တင်ပြခြင်း | ၁၂-၁၂-၂၀၁၆ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၁၉-၁၂-၂၀၁၆ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ | | | |
| | (ပထမအကြိမ်) | ၁၅-၁၂-၂၀၁၆ | | |
| | (ဒုတိယအကြိမ်) | ၂၆-၁-၂၀၁၇ | ၂၀-၃-၂၀၁၆ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၃-၁၂-၂၀၁၆ | ၃၀-၁၂-၂၀၁၆ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၁၀-၁-၂၀၁၇ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၈-၃-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၆/၂၀၁၇)MIC | (၅-၄-၂၀၁၇) | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၂၃ ရက်** | | | |

Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း လုပ်ငန်း (Construction of Cinemas and Operation of Movies Show) လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Paradiso Cinemas Co., Ltd. | ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinema and Operation of Movies Show) | ၄၆/၂၀၁၆<br>၁၂-၁၂-၂၀၁၆ | (က)အနည်းဆုံးလုပ်ခလစာကို ပြင်ဆင်ရန်<br>(ခ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်း အသေးစိတ် ဖော်ပြပေးရန် | ပြင်ဆင်ပြီး<br>ပြင်ဆင်ပြီး | |

| | |
|---|---|
| ကုမ္ပဏီအမည် | Paradiso Cimemas Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinema and Operation of Movies Show) |
| တည်နေရာ | ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဖျာပုံမြို့နယ်၊ ၁၂ ရပ်ကွက်၊ အကွက်အမှတ်- (ဘီ၂-ဘဏ်တိုက်ရပ်)၊ ဦးပိုင်အမှတ်- ၂(ဂ) ရှိ မြေဧရိယာ ၀.၁၄၉ ဧက |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန် ဒေါ်လာ ၀.၂၈သန်း |
| လုပ်ငန်းသက်တမ်း | ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်) |
| အရင်းကြေကာလ | ၃ နှစ် |
| IRR | ၃၆.၀၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၂၀ သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၀.၀၈ သန်း | ကျပ် ၁.၈၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၀.၇၀ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၅.၆၄ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁) ဦး |
| ၈ | CSR(၂%) | - | ကျပ် ၁.၀၀ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၁၄)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။ |
| | | ကျပ် ၂.၂၈ သန်း | ကျပ် ၁၀.၃၅ သန်း |
| | | ၁ း ၅ | |

# Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) နှင့်စပ်လျဉ်းသည့်အဓိကအချက်များ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်/ ကမကထပြုသူ</td><td>- Paradiso Cinemas Co., Ltd.<br>- ဦးတင်မောင်ဝင်း</td></tr>
<tr><td>၂။</td><td>ရင်းနှီးမြှုပ်နှံမှုပုံစံ</td><td>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- MAZE Co., Ltd (မြန်မာနိုင်ငံ) ၆၀ %<br>- Mr. Guy Robert EUGENE (ပြင်သစ်နိုင်ငံသား) ၄၀ %</td></tr>
<tr><td>၃။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) (Pyapon Project)</td></tr>
<tr><td>၄။</td><td>လုပ်ငန်းတည်နေရာ<br><br>မြေဧရိယာ</td><td>- ဦးပိုင်အမှတ်-၂(ဂ)၊ အကွက်အမှတ်-(ဘီ၂)၊ ဘဏ်တိုက်ရပ်၊ ၁၂ ရပ်ကွက်၊ ဖျာပုံမြို့နယ်၊ ဖျာပုံခရိုင်၊ ဧရာဝတီတိုင်းဒေသကြီး<br>- ၀.၁၄၉ ဧက (၆၀၂.၉၈ စတုရန်းမီတာ)</td></tr>
<tr><td>၅။</td><td>စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား</td><td>- အမေရိကန်ဒေါ်လာ ၀.၂၈ သန်း<br>
<table>
<tr><td></td><td>နိုင်ငံခြား (US$) သန်း</td><td>မြန်မာ (US$)သန်း</td><td>စုစုပေါင်း (US$) သန်း</td></tr>
<tr><td>ငွေသား</td><td>-</td><td>၀.၀၆</td><td>၀.၀၆</td></tr>
<tr><td>စက်ပစ္စည်း</td><td>၀.၀၇</td><td>၀.၁၁</td><td>၀.၁၈</td></tr>
<tr><td>အခြား</td><td>၀.၀၄</td><td>-</td><td>၀.၀၄</td></tr>
<tr><td>စုစုပေါင်း</td><td>၀.၁၁</td><td>၀.၁၇</td><td>၀.၂၈</td></tr>
</table></td></tr>
<tr><td>၆။</td><td>တည်ဆောက်ရေးကာလ</td><td>- ၁ နှစ်</td></tr>
<tr><td>၇။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- ကနဦး ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်)</td></tr>
<tr><td>၈။</td><td>မြေငှားစာချုပ်သက်တမ်း</td><td>- ၁၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ်)</td></tr>
<tr><td>၉။</td><td>ဝန်ဆောင်ခနှုန်း (ဆဋ္ဌမမြောက်နှစ်)</td><td>
<table>
<tr><td colspan="5">Type of Seats Class</td></tr>
<tr><td>Particular</td><td>Grade-4</td><td>Grade-3</td><td>Grade-2</td><td>Grade-1(Dual)</td></tr>
<tr><td>No. of Seats</td><td>၅၆</td><td>၁၆၉</td><td>၈၀</td><td>၁၅</td></tr>
<tr><td>Ticket Price per Seat(MMK)</td><td>၁,၀၀၀</td><td>၁,၅၀၀</td><td>၂,၀၀၀</td><td>၅,၀၀၀</td></tr>
<tr><td>No. of Cinema Show per Day</td><td>၄</td><td>၄</td><td>၄</td><td>၄</td></tr>
</table></td></tr>
<tr><td>၁၀။</td><td>ဝင်ငွေ(ဆဋ္ဌမမြောက်နှစ်)</td><td>- US$ ၄၁၉,၇၄၄</td></tr>
<tr><td>၁၁။</td><td>အသုံးစရိတ် (ဆဋ္ဌမမြောက်နှစ်)</td><td>- US$ ၃၁၄,၇၂၇</td></tr>
<tr><td>၁၂။</td><td>အသားတင်အမြတ်(ဆဋ္ဌမမြောက်နှစ်)</td><td>- US$ ၁၀၅,၀၁၇</td></tr>
</table>

| | | |
|---|---|---|
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(ဆဋ္ဌမမြောက်နှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- US$ ၃၅,၀၀၆<br>- US$ ၁၉,၉၈၈ |
| ၁၄။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br><br><br><br>ပြည်ပ | - **၁၄ ဦး**<br>- ၁၄ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာကျပ် ၁၁၀,၀၀၀၊ အမြင့်ဆုံး လစာကျပ် ၄၇၀,၀၀၀ ဖြစ်ပါသည်။)<br>- နေ့စားဝန်ထမ်း ၄ ဦး ပါဝင်ပြီး နေ့စားဝန်ထမ်းတစ်ဦးလျှင် တစ်ရက် ၃,၆၀၀ ကျပ်နှုန်းဖြင့် ခန့်ထားမည်ဖြစ်ပါသည်။<br>- ခန့်ထားခြင်းမရှိပါ။ |
| ၁၅။ | အရင်းကြေကာလ | - ၃ နှစ် |
| ၁၆။ | အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၃၆.၀၂ % |
| ၁၇။ | ငွေကြေးအထောက်အထား | - MAZE Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (International Banking Division)၌(၄-၈-၂၀၁၆)ရက်စွဲဖြင့်အမေရိကန်ဒေါ်လာ ၃၄,၅၀၀ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁၀၀,၀၀၀ units (per year) |
| ၁၉။ | CSR အစီအစဉ် | - နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂ % |
| ၂၀။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုအစီအစဉ် | - သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသော သတ်မှတ်ချက်များအား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်ကို တင်ပြထားပါသည်။ |
| ၂၁။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးဘေးကာကွယ်ရေးစီမံချက် တင်ပြထားပါသည်။ |
| ၂၂။ | မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)ပါအဓိကအချက်အလက်များ | - Paradiso Cinemas Co., Ltd. နှင့် မြေပိုင်ရှင် ဦးမျိုးဝင်းတို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(က) ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဖျာပုံမြို့နယ်၊ ၁၂ရပ်ကွက်၊ ဘဏ်တိုက်ရပ်၊ အကွက်အမှတ်-(ဘီ၂)၊ ဦးပိုင်အမှတ်-၂(ဂ)ရှိ မြေ ဧရိယာ (၀.၁၄၉) ဧက (၆၀၂.၉၈၈တုရန်းမီတာ) အား ငှားရမ်းဆောင်ရွက်မည် ဖြစ်ပါသည်။<br>(ခ) မြေငှားရမ်းသည့် သက်တမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ၁၀နှစ်ဖြစ်ပြီး နှစ်ဦးနှစ်ဖက်သဘောတူညီမှုဖြင့် ၁၀နှစ်(၁)ကြိမ်သက်တမ်းတိုးငှားရမ်းမည်ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | (ဂ) ငှားရမ်းခနှုန်းမှာတစ်နှစ်လျှင်အမေရိကန်ဒေါ်လာ ၉,၅၉၉.၄၄ ဖြစ်၍ တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅.၉၂ နှုန်းဖြစ်ပါသည်။ |
| ၂၃။ | အခြားတင်ပြချက်များ | (က) အဆိုပြုချက်နှင့်အတူ MAZE Co., Ltd. နှင့် Mr. Guy Robert EUGENE တို့ချုပ်ဆိုထားသည့် JV စာချုပ်၊ မြေငှားစာချုပ် (မူကြမ်း)၊ Paradiso Cinemas Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ MOA၊ AOA နှင့် ဒါရိုက်တာစာရင်းတို့အား တင်ပြထားပါသည်။<br>(ခ) Paradiso Cinemas Co.,Ltd. နှင့် မြေပိုင်ရှင်ဦးအေးကွန်းတို့ချုပ်ဆိုမည့် ၁၀ နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် မြေပိုင်ဆိုင်မှု အထောက်အထားများကို တင်ပြထားပြီး မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၉,၅၉၉.၄၄ (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅.၉၂) ဖြစ်ကြောင်းတင်ပြထားပါသည်။<br>(ဂ) ဝန်ထမ်းလုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအစဉ်၊ ဝန်ထမ်းများ၏ လုပ်ခလစာအပေါ် ဝင်ငွေခွန် ထမ်းဆောင်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်များကို တင်ပြထားပါသည်။ |
| ၂၄။ | **စိစစ်တင်ပြချက်** | (က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆အရ ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့်ဖက်စပ်စနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစား စာရင်းတွင်ပါဝင်ပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန်ကင်း လွတ်ခွင့်၊ သက်သာခွင့်မပေးသော လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်းစိစစ်ရပါသည်။<br>(ခ) ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အရ ရုပ်ရှင်ပြသခြင်းလုပ်ငန်းသည် နိုင်ငံခြားမှ မတည်ရင်းနှီးငွေ ၄၉ % နှင့် မြန်မာနိုင်ငံသားမှ ၅၁ % ဖြင့် ဖက်စပ်ဆောင်ရွက်နိုင်ပါသည်။<br>(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိ |

| | | |
|---|---|---|
| | | ကန်ဒေါ်လာ ၁၇၃,၃၂၀ တန်ဖိုးရှိ ရုပ်ရှင်ရုံအတွက် လိုအပ်သော စက်ပစ္စည်းကိရိယာများကို တင်သွင်းဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ဃ) ကုမ္ပဏီမှ ထိုင်ခုံ (၃၂၀)ခုံ ပါရှိသည့် Single Screen ရုပ်ရှင်ရုံ တည်ဆောက်၍ ရုပ်ရှင်ပြသခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး မြန်မာနိုင်ငံတဝှမ်းရှိ မြို့များတွင် ရုပ်ရှင်ရုံ (၁၀၀) တည်ဆောက်ရေး စီမံချက်ကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅ (အ) /န-၀၂၄/ ၂၀၁၇ (၁၃၆)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၃၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ MAZE Co., Ltd မှ ၆၀ % နှင့် ပြင်သစ်နိုင်ငံသား Mr. Guy Robert EUGENE မှ ၄၀ % ဖြင့် Paradiso Cinemas Co., Ltd. တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဖျာပုံမြို့နယ်၊ ၁၂ ရပ်ကွက်၊ ဘဏ်တိုက်ရပ်၊ အကွက်အမှတ်-(ဘီ၂)၊ ဦးပိုင်အမှတ်-၂(ဂ)ရှိ မြေဧရိယာ (၀.၁၄၉) ဧကတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Construction of Cinemas and Operation of Movies Show (ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း) လုပ်ငန်းကို နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ Paradiso Cinemas Co., Ltd. နှင့် မြေပိုင်ရှင် ဦးအေးကွန်း တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)၊ MAZE Co., Ltd. နှင့် Mr. Guy Robert EUGENE တို့ချုပ်ဆိုထားသည့် ဖက်စပ်စာချုပ်၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဖျာပုံမြို့နယ်၊ ၁၂ ရပ်ကွက်၊ ဘဏ်တိုက်ရပ်၊ အကွက်အမှတ်-(ဘီ၂)၊ ဦးပိုင်အမှတ်-၂(ဂ)ရှိ မြေဧရိယာ (၀.၁၄၉) ဧက (၆၀၂.၉၈ စတုရန်းမီတာ)အား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၉,၅၉၉.၄၄နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၅.၉၂ နှုန်း)ဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ (၁၀)နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး (၁၀)နှစ် ဖြစ်၍ (၁၀)နှစ် တစ်ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၂၈ သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁၇၃,၃၂၀ တန်ဖိုးရှိ ရုပ်ရှင်ရုံအတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများ အား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | နိုင်ငံခြား(US$သန်း) | မြန်မာ(US$သန်း) | စုစုပေါင်း(US$သန်း) |
|---|---|---|---|---|
| (က) | ငွေသား | - | ၀.၀၆ | ၀.၀၆ |
| (ခ) | စက်ပစ္စည်း | ၀.၀၇ | ၀.၁၁ | ၀.၁၈ |
| (ဂ) | အခြား | ၀.၀၄ | - | ၀.၀၄ |
| | **စုစုပေါင်း** | **၀.၁၁** | **၀.၁၇** | **၀.၂၈** |

၆။ လုပ်ငန်းဆောင်ရွက်ရန် နေ့စားဝန်ထမ်း ၄ ဦး အပါအဝင် ပြည်တွင်းဝန်ထမ်း (၁၄) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားရန်မရှိကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၄၇၀,၀၀၀ ဖြစ် ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ဝန်ဆောင်မှုပေးမည့် ဝန်ဆောင်ခနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | Type of Seats Class | | | |
|---|---|---|---|---|
| **Particular** | Grade-4 | Grade-3 | Grade-2 | Grade-1(Dual) |
| No. of Seats | ၅၆ | ၁၆၉ | ၈၀ | ၁၅ |
| Ticket Price per Seat(MMK) | ၁,၀၀၀ | ၁,၅၀၀ | ၂,၀၀၀ | ၅,၀၀၀ |
| No. of Cinema Show per Day | ၄ | ၄ | ၄ | ၄ |

၈။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **စဉ်** | **အကြောင်းအရာ** | **US$** |
|---|---|---|
| (က) | ဝင်ငွေ | ၄၁၉,၇၄၄ |
| (ခ) | အသုံးစရိတ် | ၃၁၄,၇၂၇ |
| (ဂ) | အသားတင်အမြတ် | ၁၀၅,၀၁၇ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၃၅,၀၀၆ နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၁၉,၉၈၈ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ် ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၃၆.၀၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၇) ဆုံးဖြတ်ချက် (၉) အရ အဆိုပါလုပ်ငန်းအား ထောက်ခံပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)** အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက်သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP)** အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်၊ ပြဋ္ဌာန်းထုတ်ပြန်ထားပြီး ဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဂ) **ပြန်ကြားရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**
Paradiso Cinemas Co., Ltd. တည်ထောင်ကာ ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း (Construction of Cinemas and Operation of Movies Show) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

၁၁။ ငွေကြေးအထောက်အထားများအဖြစ် MAZE Co., Ltd. အမည်ဖြင့် ကမ္ဘောဇဘဏ် (International Banking Division)၌ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၄ ရက် ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၃၄,၅၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအားအဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၄၆/၂၀၁၆)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၅။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆အရ ပြန်ကြားရေးဝန်ကြီးဌာန၏သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ်ဆောင်ရွက်နိုင်သည့် စီးပွားရေးလုပ်ငန်းအမျိုးအစားဖြစ်ပါသည်။

(ခ) Paradiso Cinemas Co., Ltd. သည် ထိုင်ခုံ (၃၂၀)ခုံ ပါရှိသည့် Single Screen ရုပ်ရှင်ရုံ တည်ဆောက်၍ ရုပ်ရှင်ပြသခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပြီး မြန်မာနိုင်ငံတဝှမ်းရှိ မြို့များတွင် ရုပ်ရှင်ရုံ (၁၀၀) တည်ဆောက်ရေး စီမံချက်ကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၁၇၃,၃၂၀ တန်ဖိုးရှိ စက်ပစ္စည်းကိရိယာများကို အခွန်အကောက် ကင်းလွတ်ခွင့်၊ သက်သာခွင့်ဖြင့် တင်သွင်းဆောင်ရွက်နိုင်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက ပြန်ကြားရေးဝန်ကြီးဌာနသို့ သက်ဆိုင်ရာလုပ်ငန်း လိုင်စင်လျှောက်ထားရန် လိုအပ်ပါကြောင်းစိစစ်တင်ပြအပ်ပါသည်။

(င) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)တို့အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(စ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် အောက်ပါလုပ်ငန်းများအား ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီး ဖြစ်ပါသည်-

| ကုမ္ပဏီအမည် | ခွင့်ပြုမိန့် အမှတ်/ ရက်စွဲ | လုပ်ငန်းအမျိုးအစား | တည်နေရာ | ရင်းနှီးမြှုပ်နှံမှုပုံစံ |
|---|---|---|---|---|
| Paradiso Cinemas Co., Ltd. | ၁၂၂၄/၂၀၁၆ (၁၅-၁-၂၀၁၇) | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း | ရန်ကုန်တိုင်းဒေသကြီး၊ ရန်ကုန်မြောက်ပိုင်းခရိုင်၊ မှော်ဘီမြို့နယ်၊ တပ်ကြီးကုန်းကျေးရွာအုပ်စု၊ ရွာသစ်ကွင်း၊ အကွက်အမှတ်-၅၈၄၊ ဦးပိုင်အမှတ်-၆/၃ | ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| Paradiso Cinemas Co., Ltd. | (၅/၂၀၁၇) MIC (၁၃-၃-၂၀၁၇) ခွင့်ပြုပြီး | ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း | စစ်ကိုင်းတိုင်းဒေသကြီး၊ မုံရွာခရိုင်၊ မုံရွာမြို့နယ်၊ ချမ်းမြဝတီရပ်ကွက်၊ အကွက်အမှတ်-သလ္လာမြို့သစ်၊ ၃၀ လမ်း၊ ဦးပိုင်အမှတ်-၃၀/၃၂ | ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |

**ဆုံးဖြတ်ရန်အချက်**

၁၆။ Paradiso Cinemas Co., Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ- က

လျှို့ဝှက်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**တိုင်းဒေသကြီးအစိုးရအဖွဲ့**

**ဧရာဝတီတိုင်းဒေသကြီး**

Mj - 0232
24.3.17

စာအမှတ်၊ ၄၀၀/ ၄ - ၈(၁)/အစိုးရ(ဧရာဝတီ) (၈/၂၀၁၇)

ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၂၀ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၅.၁၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / န - ၀၂၄ / ၂၀၁၆ (၁၆၃)

၁။ မြန်မာနိုင်ငံ MAZE Co.,Ltd မှ (၆၀)ရာခိုင်နှုန်းနှင့် ပြင်သစ်နိုင်ငံနေ Mr.Guy Robert EUGENE မှ (၄၀)ရာခိုင်နှုန်း ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံတွင် Paradiso Cinemas Co.,Ltd တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့နယ်၊ (၁၂)ရပ်ကွက်၊ အကွက်အမှတ် (ဘီ ၂-ဘဏ်တိုက်ရပ်)၊ ဦးပိုင်အမှတ်-၂(ဂ)ရှိ မြေဧရိယာ (၀.၁၄၉)ဧကကို ငှားရမ်း၍ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း)လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သဘောထားတောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ (၉/၁၀.၃.၂၀၁၇)ရက်နေ့များတွင် ကျင်းပပြုလုပ်သည့် ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၇)တွင် တင်ပြဆွေးနွေးခဲ့ရာ ဆုံးဖြတ်ချက် (၉)အရ **သဘောတူကြောင်း** ဆုံးဖြတ်ခဲ့ပါသဖြင့် အောက်ဖော်ပြပါအချက်များအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည် -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံမြို့နယ်၊ (၁၂) ရပ်ကွက်၊ အကွက်အမှတ် (ဘီ ၂-ဘဏ်တိုက်ရပ်)၊ ဦးပိုင်အမှတ်-၂(ဂ)ရှိ

မြေဧရိယာ (၀.၁၄၉)ဧကသည် နောင်ပြုလုပ်မည့် (သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

**(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။**

Paradiso Cinemas Co.,Ltd ၏ ယခုအဆိုပြုလာသည့် Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း)လုပ်ငန်း ပြုလုပ်သည့်အတွက် ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းများနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

**(ဂ) ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။**

အဆိုပြုလျှောက်ထားလာသည့် Paradiso Cinemas Co.,Ltd ၏ Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း)လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

**(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ဟုတ်/မဟုတ်။**

အဆိုပြုတင်ပြထားသည့် မြေနေရာသည် Paradiso Cinemas Co.,Ltd ၏ Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း)လုပ်ငန်း ဆောင်ရွက်ရန်အတွက် သင့်တော်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

**(င) ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်**

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင် အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေး ဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် Cinema Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း)လုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့်

လုပ်ငန်းဖြစ်ပါသဖြင့် အဆိုပါလုပ်ငန်းအား ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

ဝန်ကြီးချုပ် (  )
( သန်းဆွေဝင်း ၊ အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ဧရာဝတီတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန၊ ပုသိမ်မြို့

Paradiso Cinemas Co.,Ltd

လုံ့လည်စာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ- ၁

MY-1491
30/12/16

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ ရန်ကုန်မြို့
စာအမှတ်……
ရက်စွဲ……

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

ရန်ကုန်မြို့

စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၂၇၆/ ၁၄ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဒီဇင်ဘာလ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Paradiso Cinemas Co.,Ltd.မှ Construction and Operation of Movies Show (ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့်ရုပ်ရှင်ပြသခြင်း) လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၄/ ၂၀၁၆ (၅၅၈)

၁။ မြန်မာနိုင်ငံ MAZE Co.,Ltd. မှ ၆၀% နှင့် ပြင်သစ်နိုင်ငံမှ Mr. Guy Robert EUGENE မှ ၄၀% ဖြင့် ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံတွင် Paradiso Cinemas Co.,Ltd. တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဖျာပုံမြို့နယ်၊ ၁၂ ရပ်ကွက်၊ အကွက်အမှတ်- (ဘီ ၂-ဘဏ်တိုက်ရပ်)၊ ဦးပိုင်အမှတ် - ၂(က) ရှိ မြေဧရိယာ ၀.၁၄၉ ဧက ကို ငှားရမ်း၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Construction and Operation of Movies Show (ရုပ်ရှင်ရုံတည်ဆောက်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း) လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လွှာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၂၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊ မြေဧရိယာ အကျယ်အဝန်း ၀.၁၄၉ ဧက (စတုရန်းမီတာ ၆၀၂.၉၈) ပေါ်တွင်ထိုင်ခုံ (၃၁၆) ပါရှိသည့် (Single Screen) ရုပ်ရှင်ရုံ (၁) ရုံ တည်ဆောက်၍ အများပြည်သူသို့ ရုပ်ရှင်ပြသဖျော်ဖြေခြင်း လုပ်ငန်းကိုလုပ်ကိုင် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ခ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

(ဃ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရေးအတွက် လိုအပ်သော အစီအမံများကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေများနှင့်အညီ လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်သွားမည် ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) အဆိုပါ Paradiso Cinemas Co., Ltd. တည်ဆောက်ခြင်း လုပ်ငန်းများဆောင်ရွက်ရာတွင် မြေသားပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာမည့် အမှုန်၊ အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊

(ခ) လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံ့အသံကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ လောင်စာဆီစသည့် စွန့်ပစ် အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အလုပ်သမားများမှ စွန့်ပစ်ပစ္စည်း အရည်၊ အစိုင်အခဲများ စွန့်ပစ်ခြင်း၊ မိလ္လာ အညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု၊ လေထု ညစ်ညမ်းမှု ဖြစ် ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Paradiso Cinemas Co., Ltd. မှ Construction and Operation of Movies Show ( ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း ) လုပ်ငန်းအား တည်ဆောက်၍ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်

များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ် အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာ ဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

20/10/16

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြန်ကြားရေးဝန်ကြီးဌာန (နောက်ဆက်တွဲ - ဂ)

ဝန်ကြီးရုံး

စာအမှတ်၊ ၃-၄(၉/၂၀၁၆)/

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ နိုဝင်ဘာလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

P-1156/4
18.11.16

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၁၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၁/၂၀၁၆(၅၀၂)

၁။ မြန်မာနိုင်ငံ MAZE Co.,Ltd မှ ၆၀% နှင့် ပြင်သစ်နိုင်ငံသား Mr.Guy Robert EUGENE မှ ၄၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paradiso Cinemas Co.,Ltd တည်ထောင်ကာ ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း (Construction and Operation of Movies Show) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ပြန်ကြားရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် တောင်းခံခဲ့ပါသည်။

၂။ Paradiso Cinemas Co.,Ltd တည်ထောင်ကာ ရုပ်ရှင်ရုံများ ဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်း (Construction and Operation of Movies Show) လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် ပြန်ကြားရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(မျိုးမြင့်မောင်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

Paradiso Cinemas Co.,Ltd

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Paradiso Cimemas Co., Ltd. | (၁) ဦးတင်မောင်ဝင်း<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ဘဟန(နိုင်) ၀၃၇၈၄၉ | အမှတ်-၃၃၊ ပတ္တမြားလမ်း၊ မြန်မာ့ဂုဏ်ရောင်အိမ်ရာ၊ သံသုမာလမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၂) ဦးမိုးလွင်<br>ဒါရိုက်တာ<br>မြန်မာ<br>၆/မအရ(နိုင်)၀၇၉၆၅၅ | အမှတ်-၆၃၊ အောင်မင်းခေါင်လမ်း၊ ဝင်ဒါမီယာရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃) ဦးသူရ<br>ဒါရိုက်တာ<br>မြန်မာ<br>၁၂/ရခန(နိုင်)၀၁၈၀၁၃ | အမှတ်-၃၄၊ ၁၆၆ လမ်း၊ တာမွေကြီး (ခ)ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ |
| | | Individual Overseas Investor<br>(1) Mr. Guy Robert EUGENE<br>Director<br>French<br>15 FV05241 | No. 23, Chemindes Fees VERBIER 1936, Switzerland. |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၅၀၀၄၃၈၅

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်(၂၀) ၊ ပုလဲလမ်း၊ ရွှေတောင်ကြားရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးတင်မောင်ဝင်း (ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ရုပ်ရှင်ရုံများဆောက်လုပ်ခြင်းနှင့် ရုပ်ရှင်ပြသခြင်းလုပ်ငန်း (Construction of Cinemas and Operation of Movies Show)

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၄၁၁ အက်ဖ်စီ/၂၀၁၆-၂၀၁၇ (ရက) (၁၆-၈-၂၀၁၆)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၁၅-၂-၂၀၁၇

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -